# ၁

အကြောင်းအရာ။ ရာခိုင်နှုန်းပြည့် မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် Seinn Ou Yin Co., Ltd. (စိမ်း ဥယျာဉ် ကုမ္ပဏီလီမိတက်) မှ ကြယ်သုံးပွင့် အဆင့်ရှိ နိုင်ငံတကာ အဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း အား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေ နှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြု လျှောက်ထားလွှာ တင်ပြခြင်း ကိစ္စ။

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်<br>ရင်းနှီးမြှုပ်နှံသူ<br>ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဌာန်<br>လုပ်ငန်းအမျိုးအစား | - Seinn Ou Yin Co., Ltd.(စိမ်းဥယျာဉ် ကုမ္ပဏီ လီမိတက်)<br>- ဦးသန်းဇော်<br>- ရာခိုင်နှုန်းပြည့်နိုင်ငံသားရင်းနှီးမြှုပ်နှံမှု<br>- ကြယ်သုံးပွင့် အဆင့်ရှိ နိုင်ငံတကာ အဆင့်မီ ဟိုတယ် ဝန်ဆောင်မှု လုပ်ငန်း |
| ၂။ | တည်နေရာ | - မြေကွက်အမှတ်(၂-ခ+၂-ဂ)၊ မြေတိုင်းရပ်ကွက်အမှတ်-(၁၁/၃)၊ ပြည်ကြီးတံခွန်မြို့နယ်၊ မန္တလေးတိုင်းဒေသကြီး။ |
| ၃။ | မြေပိုင်ရှင်<br><br>မြေအကျယ်အဝန်း<br>အဆောက်အဦအရေအတွက်<br>နှစ်စဉ်မြေငှားရမ်းခ | - ဦးသန်းဇော်ပိုင်မြေ (၀.၂၂၉၅) ဧက နှင့်<br>ဒေါ်နန်းမာလာသိန်း ပိုင်မြေ (၀.၂၂၉၆) ဧက<br>- စုစုပေါင်း ၀.၄၅၉၁ ဧက (၁၈၅၇.၉၁ စတုရန်းမီတာ)<br>- (၈) ထပ်ဟိုတယ်အဆောက်အဦ (၁) လုံး<br>- ဦးသန်းဇော်ပိုင်မြေ (၀.၂၂၉၅) ဧက အတွက် တစ်နှစ်လျှင် ကျပ် ၄,၁၃၁,၀၀၀/- (တစ်နှစ် တစ်စတုရန်း မီတာလျှင် ၄၄၄၇.၈၉ ကျပ် ) နှင့်<br>- ဒေါ်နန်းမာလာသိန်း ပိုင်မြေ (၀.၂၂၉၆) ဧက အတွက် တစ်နှစ်လျှင် ကျပ် ၄,၁၃၂,၈၀၀/- (တစ်နှစ် တစ်စတုရန်း မီတာလျှင် ကျပ် ၄၄၄၇.၉၆ ကျပ် )<br>- စုစုပေါင်းငှားရမ်းခ ၈,၂၆၃,၈၀၀ ကျပ် |
| ၄။ | ရင်းနှီးမြှုပ်နှံမှုပြုလုပ်လို သည့်သက်တမ်း | - ကနဦးနှစ်(၃၀)နှင့် (၁၀)နှစ် သက်တမ်းတိုး ၂ကြိမ် |
| ၅။ | တည်ဆောက်မှုကာလ | - ၂ နှစ် |
| ၆။ | စုစုပေါင်းမတည်ငွေရင်းပမာဏ<br>ငွေသား<br>အဆောက်အဦး<br>ဟိုတယ်သုံးလျှပ်စစ်အသုံးအဆောင်များ (ပြည်ပဝယ်) | ကျပ် ၅၈၄၇.၇၇၄ သန်း(US$ ၂.၄၆၆ သန်းအပါအဝင်)<br>ကျပ် ၁၀၀.၀၀၀ သန်း<br>ကျပ် ၆၀၀.၀၀၀ သန်း<br>ကျပ် ၂,၁၆၈.၆၆၁ သန်း(US$ ၁.၄၂၇ သန်းနှင့်ညီမျှသောမြန်မာကျပ်) |

| | | |
|---|---|---|
| | ဟိုတယ်ခန်းသုံးပစ္စည်းများ(ပြည်ပဝယ်)<br>ဟိုတယ်အတွင်းပိုင်းသုံးပစ္စည်း (ပြည်တွင်းဝယ်)<br>ဟိုတယ်လုပ်ငန်းသုံးပစ္စည်း(ပြည်တွင်းဝယ်)<br>မော်တော်ကား(ပြည်တွင်းဝယ်) | ကျပ် ၁,၅၇၉.၇၃၄ သန်း(US$ ၁.၀၃၉သန်းနှင့်ညီမျှသောမြန်မာကျပ်)<br>ကျပ် ၁,၀၉၅.၄၂၉ သန်း<br>ကျပ် ၁၆၅.၄၅၀ သန်း<br>ကျပ် ၁၃၈.၅၀၀ သန်း |
| ၇။ | ဆောင်ရွက်မည့်နည်းစနစ် | - ဟိုတယ်ဝန်ဆောင်မှု |
| ၈။ | ဝန်ဆောင်ခနှုန်း | (see below) |
| ၉။ | ဝန်ထမ်းခန့်ထားမှု | (see below) |

၈။ ဝန်ဆောင်ခနှုန်း

| အမျိုးအစား | အရေအတွက် | အခန်းငှားရမ်းခနှုန်း | |
|---|---|---|---|
| | | ကျပ် | US$ |
| Superior Room | ၇ | ၁၂၈,၇၇၅/- | ၈၅/- |
| Delux Room | ၆၇ | ၉၅,၀၀၀/- | ၆၅/- |
| စုစုပေါင်း | ၇၄ | | |

- Superior Room တွင် Suit Room နှင့် Ambassador Room တို့ပါဝင်ပါသည်။
- Delux Room တွင် Delux Twin , Delux Queen နှင့် Connecting Room တို့ပါဝင်ပါသည်။
- မြေညီထပ်(ပထမထပ်)တွင် Lobby ၊ Dining Room& Kitchen၊ Office Room နှင့် ကား ၂၀ စီးရပ်နားရန်နေရာတို့ပါဝင်ပါသည်။
- ဒုတိယထပ် မှ သတ္တမထပ် ထိ အထပ်တိုင်းတွင်အခန်း ၁၁ ခန်းစီနှင့် အဋ္ဌမထပ် တွင်အခန်း ၈ ခန်း ပါဝင်ပြီး ခေါင်မိုးတွင် SKY Garden ပါဝင်ပါသည်။

၉။ ဝန်ထမ်းခန့်ထားမှု

**ပြည်တွင်း**

ဦးရေ ၁၀၀ ဦး

အမြင့်ဆုံးလစာ ကျပ် ၁,၀၀၀,၀၀၀/-

အနိမ့်ဆုံးလစာ ကျပ် ၂၀၀,၀၀၀/-

| | | |
|---|---|---|
| ၁၀။ | CSR အစီအစဉ် | - လုပ်ငန်းအမြတ်ငွေမှအနည်းဆုံး၂% သုံးစွဲမည်ဖြစ်ကြောင်း၊ ပတ်ဝန်းကျင်ထိန်းသိမ်းပြုပြင်ရေးအတွက် ၂၀%၊ ဟိုတယ်ပတ်ဝန်းကျင်ရှိ သာရေး/နာရေးအတွက် ၂၀%၊ စာသင်ကျောင်းများ၏ ဘက်စုံဖွံ့ဖြိုးတိုးတက်ရေးအတွက် ၂၀%၊ ဘိုးဘွားရိပ်သာများနှင့် အခါအားလျော်စွာ ပရဟိတလုပ်ငန်းများ အတွက် ၂၀% နှင့် မိဘမဲ့ဂေဟာများ၊ ဘာသာရေးနှင့် သာသနာ ထွန်းလင်းပြန့်ပွားရေးအတွက် ၂၀% သုံးစွဲမည် ဖြစ်ပါသည်။ |
| ၁၁။ | မီးဘေးကြိုတင်ကာကွယ်မှု စီမံချက် | - မီးဘေးကြိုတင် ကာကွယ်မှု အနေဖြင့် Fire Alarm များဖြစ်သော Smoke Detector နှင့် Heat Detector များကိုတပ်ဆင်ခြင်း၊ Manual Call Point, Alarm Bell နှင့် Fire Command Center များ ထည့်သွင်း တည်ဆောက်ပြီး Fire Hosereel များကို တစ်ထပ်လျှင် (၁)လုံးစီဖြင့် ရေပက်ဖြန်းနိုင်ရန် ဆောင်ရွက်ခြင်း၊ ရေဂါလံ (၃၀၀၀) ဆန့် မြေအောက် ရေကန်(၂)လုံး ဆောက်လုပ်ပြီး မော်တာ၊ ရေစုပ်စက်၊မီးသတ်ပိုက်နှင့် ပိုက်ခေါင်းများ ထားရှိခြင်း၊ ဟိုတယ်အတွင်း မီးသတ်ဆေးဘူးများ အဆင်သင့် ထားရှိခြင်း၊ မြို့နယ်မီးသတ်တပ်ဖွဲ့များမှ အခါအားလျော်စွာ ပို့ချသည့် မီးသတ်သင်တန်းများသို့ ဟိုတယ်ဝန်ထမ်း များအားတက်ရောက်စေပြီး မီးကာကွယ်ငြိမ်းသတ်ရေး အဖွဲ့များဖွဲ့စည်းထားရှိခြင်းတို့ကို ဆောင်ရွက်သွားမည် ဖြစ်ကြောင်းတင်ပြထား ပါသည်။ |
| ၁၂။ | သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုအစီအစဉ် | - သဘာဝပတ်ဝန်းကျင်နှင့် လူမှုပတ်ဝန်းကျင် ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး အစီအစဉ်များရေးဆွဲပြီး လိုက်နာဆောင်ရွက် သွားမည်ဖြစ်ကြောင်း ဝန်ခံကတိပြု တင်ပြထားပါသည်။ |

| | | |
|---|---|---|
| ၁၃။ | လုပ်ငန်းခွင်သာယာရေးနှင့် သက်သာချောင်ချိရေး အစီအစဉ် | - ကြို/ပို့ယာဉ်များနှင့် ဝန်ထမ်းအိမ်ယာများ စီစဉ်ပေးခြင်း၊ အချိန်ပိုကြေးပေးခြင်း၊ ခွင့်ရက်မပျက် ဝန်ထမ်းများအား အပိုဆု ကြေးပေးခြင်း၊ နှစ်စဉ်ပျော်ပွဲရွှင်ပွဲများ ပြုလုပ်ပေး ခြင်း၊ ကျန်းမာရေး စောင့်ရှောက်မှု အတွက် ဆေးသေတ္တာ များထားရှိခြင်း၊ နာမကျန်းသူနားနေခန်း ထားရှိခြင်း၊ လူမှုဖူလုံရေး ဝင်ရောက်စေခြင်း၊ အခါအားလျော်စွာ ကျန်းမာရေးပညာပေးသင်တန်းများသို့ (၃)လ တစ်ကြိမ် စေလွှတ်သင်ကြားပေးခြင်း၊ နှစ်ရှည် ဝန်ထမ်းများအတွက် ဆေးကုသစရိတ် ထောက်ပံ့ပေးခြင်းတို့ကို ဆောင်ရွက် ပေးမည်ဖြစ်ကြောင်း တင်ပြထားပါသည်။ |
| ၁၄။ | အခြားတင်ပြချက်များ | - မြေပိုင်ရှင် ဦးသန်းဇော်၊ ဒေါ်နန်းမာလာသိန်းတို့နှင့် မြေ အငှားချထားခြင်းခံရသူ Seinn Ou Yin Co., Ltd. တို့ အကြား ချုပ်ဆိုမည့် မြေငှားရမ်းခြင်း စာချုပ်(မူကြမ်း) များ နှင့် မြေပိုင်ဆိုင်မှုအထောက်အထား မြေဂရန်မိတ္တူများ ကို တင်ပြထား ပါသည်။<br>- ၈ထပ် ဟိုတယ် အဆောက်အဦ၏ မြေအောက်ထပ်တွင် ကား ၂၀ စီးဆံ့ Car Parking တစ်ခု ပါရှိမည်ဖြစ်ပါသည်။<br>- ဟိုတယ်သုံးလျှပ်စစ်အသုံးအဆောင်များနှင့်ဟိုတယ်ခန်းသုံး ပစ္စည်းများအား ပြည်ပမှဝယ်ယူ အသုံးပြုမည် ဖြစ်ပါသည်။<br>- အဆောက်အဦဆောက်လုပ်ခွင့်စာမိတ္တူတင်ပြထားပါသည်။<br>- ဝန်ထမ်း၊ အလုပ်သမားများ၏လုပ်ခ၊ လစာနှင့် ပတ် သက် ၍ သက်ဆိုင်ရာ တည်ဆဲဥပဒေများ၊ နည်းဥပဒေများ၊ စည်း မျဉ်းစည်းကမ်းများ၊ အမိန့်ကြော်ငြာစာ၊ အမိန့်ညွှန်ကြား ချက်နှင့်လုပ်ထုံးလုပ်နည်းများနှင့်အညီလိုက်နာဆောင်ရွက် သွားမည်ဖြစ်ကြောင်း ဝန်ခံကတိ တင်ပြထားပါသည်။<br>- အလုပ်သမားအချင်းချင်း၊ အလုပ်ရှင်နှင့် အလုပ်သမားတို့ အကြား ပေါ်ပေါက်လာသည့် အငြင်းပွားမှုများအား သက် ဆိုင်ရာ တည်ဆဲဥပဒေများ နှင့်အညီ ဖြေရှင်း ဆောင်ရွက် သွားပါမည်ဟု ဝန်ခံကတိတင်ပြထားပါသည်။ |

| | | |
|---|---|---|
| | | - ရင်းနှီးမြှုပ်နှံသူ၏ မှတ်ပုံတင်မိတ္တူများ တင်ပြထားပါသည်။ |
| ၁၅။ | **စိစစ်တင်ပြချက်** | - မန္တလေးတိုင်းဒေသကြီးအတွင်း ဟိုတယ်လုပ်ငန်းနှင့် စပ်လျဥ်း၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု (၅) ခုနှင့် မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှု (၃၀) ခုတို့ကို ခွင့်ပြုမိန့် ထုတ်ပေး ထားပြီး မန္တလေးတိုင်း ဒေသကြီး ရင်းနှီးမြှုပ်နှံမှု ကော်မတီမှ ထုတ်ပေးထားသည့် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု (၂) ခုနှင့် နိုင်ငံသားရင်းနှီးမြှုပ်နှံမှု (၃) ခုတို့ ပါဝင်ပါသည်။<br>- အဆိုပြုလုပ်ငန်းသည် ရင်းနှီးမြှုပ်နှံမှု ဦးစားပေးမြှင့် တင်မည့် ကဏ္ဍတွင် ပါဝင်ပြီး ဖွံ့ဖြိုးတိုးတက်မှုဇုန် (၃) တွင် ပါဝင် သဖြင့် ဝင်ငွေခွန် ကင်းလွတ်ခွင့် ၃ နှစ် ခံစားခွင့် လျှောက်ထား နိုင်ကြောင်း စိစစ်တွေ့ရှိရပါသည်။ |

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မန္တလေးတိုင်းဒေသကြီး ရင်းနှီးမြှုပ်နှံမှုကော်မတီ

စာအမှတ်၊ ၂၂ / ၄၄ / ၀၃ ( မ-၂၉) ( ၅၁၄ /၂၀၁၉)

ရက်စွဲ ၊၂၀၁၉ ခုနှစ်၊ ဇွန်လ ၂၂ ရက်။

## မန္တလေးတိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီသို့တင်ပြသည့်အမှာစာ

အကြောင်းအရာ။ ရခိုင်နှန်းပြည့် နိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် Seinn Ou Yin Co., Ltd. (စိမ်းဥယျာဉ်ကုမ္ပဏီလီမိတက်)မှ ကြယ်သုံးပွင့်အဆင့်ရှိနိုင်ငံတကာ အဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေ နှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြု လျှောက်ထားလွှာ တင်ပြခြင်း ကိစ္စ။

၁။ Seinn Ou Yin Co., Ltd. (စိမ်းဥယျာဉ်ကုမ္ပဏီလီမိတက်) မှ မြေကွက်အမှတ်(၂-ခ+၂-ဂ)၊ မြေတိုင်းရပ်ကွက်အမှတ်-(၁၁/၃)၊ ပြည်ကြီးတံခွန်မြို့နယ်၊ မန္တလေးတိုင်းဒေသကြီးရှိ ဦးသန်းဇော် ပိုင်မြေ (၀.၂၂၉၅) ဧက နှင့် ဒေါ်နန်းမာလာသိန်း ပိုင်မြေ (၀.၂၂၉၆) ဧက စုစုပေါင်း ၀.၄၅၉၁ ဧက (၁၈၅၇.၉၁ စတုရန်းမီတာ)ကို ငှားရမ်း၍ ကြယ်သုံးပွင့်အဆင့်ရှိ နိုင်ငံတကာ အဆင့်မီ ဟိုတယ် ဝန်ဆောင်မှု လုပ်ငန်းအား ရခိုင်နှုန်းပြည့်နိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက် ခွင့်ပြုပါရန် အတည်ပြု လျှောက်ထားလွှာ တင်ပြလာပါသည်။

၂။ မြေပိုင်ရှင် ဦးသန်းဇော်၊ ဒေါ်နန်းမာလာသိန်း တို့နှင့် မြေအငှားချထားခြင်းခံရသူ Seinn Ou Yin Co., Ltd. တို့အကြားချုပ်ဆိုမည့် မြေငှားရမ်းခြင်း စာချုပ်(မူကြမ်း)များနှင့် မြေပိုင်ဆိုင်မှု အထောက်အထားများ၊ ကုမ္ပဏီမှတ်ပုံတင်လက်မှတ်နှင့် အချက်အလက်များ၊ ရင်းနှီးမြှုပ်နှံသူ၏ မှတ်ပုံတင် မိတ္တူများ ပူးတွဲတင်ပြ ထားပါသည်။

၃။ တည်ဆောက်ရေးကာလမှာ ၂ နှစ် ဖြစ်ပါသည်။

၄။ လုပ်ငန်း၏ စုစုပေါင်း ရင်းနှီးမြှုပ်နှံမှုပမာဏမှာ ကျပ် ၅၈၄၇.၇၇၄ သန်း (အမေရိကန် ဒေါ်လာ၂.၄၆၆သန်းအပါအဝင်)ဖြစ်ပြီး ရင်းနှီးမြှုပ်နှံမှုအသေးစိတ်မှာအောက်ပါအတိုင်း ဖြစ်ပါသည်-

| | | |
|---|---|---|
| ငွေသား | - | ကျပ် ၁၀၀.၀၀၀ သန်း |
| အဆောက်အဦး | - | ကျပ် ၆၀၀.၀၀၀ သန်း |
| ဟိုတယ်သုံးလျှပ်စစ်အသုံးအဆောင်များ (ပြည်တွင်းဝယ်) | - | ကျပ်၂,၁၆၈.၆၆၁ သန်း(US$ ၁.၄၂၇ သန်းနှင့်ညီမျှသောကျပ်) |
| ဟိုတယ်ခန်းသုံးပစ္စည်းများ(ပြည်ပဝယ်) | - | ကျပ် ၁,၅၇၉.၇၃၄ သန်း(US$၁.၀၃၉သန်းနှင့်ညီမျှသောကျပ်) |
| ဟိုတယ်အတွင်းပိုင်းသုံးပစ္စည်း(ပြည်တွင်းဝယ်) | - | ကျပ် ၁,၀၉၅.၄၂၉ သန်း |
| ဟိုတယ်လုပ်ငန်းသုံးပစ္စည်း(ပြည်တွင်းဝယ်) | - | ကျပ် ၁၆၅.၄၅၀ သန်း |
| မော်တော်ကား(ပြည်တွင်းဝယ်) | - | ကျပ် ၁၃၈.၅၀၀ သန်း |
| စုစုပေါင်း | - | ကျပ် ၅၈၄၇.၇၇၄ သန်း(US$ ၂.၄၆၆ သန်းအပါအဝင်) |

၅။ လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်းဝန်ထမ်း (၁၀၀) ဦး ခန့်ထား ဆောင်ရွက်မည် ဖြစ်ပါသည်။ ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ လစာမှာ အနိမ့်ဆုံး ကျပ် ၂၀၀,၀၀၀/- နှင့် အမြင့်ဆုံး ကျပ် ၁,၀၀၀,၀၀၀/- ဖြစ်ပါသည်။

၆။ အခန်းအရေအတွက်နှင့် ဝန်ဆောင်ခ နှုန်းများမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| အမျိုးအစား | အရေအတွက် | အခန်းငှားရမ်းခနှုန်း | |
|---|---|---|---|
| | | ကျပ် | US$ |
| Superior Room | ၇ | ၁၂၈,၇၇၅/- | ၈၅/- |
| Delux Room | ၆၇ | ၉၅,၀၀၀/- | ၆၅/- |
| **စုစုပေါင်း** | ၇၄ | | |

၇။ Superior Room တွင် Suit Room နှင့် Ambassador Room ၊ Delux Room တွင် Delux Twin, Delux Queen နှင့် Connecting Room တို့ပါဝင်ပါသည်။ **မြေညီထပ် (ပထမထပ်)တွင်** Lobby ၊ Dining Room& Kitchen၊ Office Room နှင့် ကား ၂၀ စီး ရပ်နားရန် နေရာတို့ပါဝင်ပါသည်။ **ဒုတိယထပ်** မှ သတ္တမထပ် ထိ အထပ်တိုင်းတွင်အခန်း ၁၁ ခန်းစီ နှင့် အဌမထပ် တွင်အခန်း ၈ ခန်း ပါဝင်ပြီး ခေါင်မိုးတွင် SKY Garden ပါဝင်ပါသည်။

၈။ **စိစစ်တင်ပြချက်**

(က) အဆိုပြုမြေပေါ်တွင် ၈ ထပ် ဟိုတယ်အဆောက်အဦ (၁) လုံး ဆောက်လုပ်မည် ဖြစ်ပါသည်။

(ခ) **CSR** အနေဖြင့် လုပ်ငန်းအမြတ်ငွေမှအနည်းဆုံး၂% သုံးစွဲမည်ဖြစ်ကြောင်း၊ ပတ်ဝန်းကျင်ထိန်းသိမ်းပြုပြင်ရေးအတွက် ၂၀%၊ ဟိုတယ် ပတ်ဝန်းကျင်ရှိ သာရေး/နာရေးအတွက် ၂၀%၊ စာသင်ကျောင်းများ၏ ဘက်စုံဖွံ့ဖြိုးတိုးတက်ရေး အတွက် ၂၀%၊ ဘိုးဘွားရိပ်သာများနှင့် အခါအားလျှော်စွာ ပရဟိတ လုပ်ငန်းများ အတွက် ၂၀% နှင့် မိဘမဲ့ဂေဟာများ၊ ဘာသာရေးနှင့် သာသနာ ထွန်းလင်း ပြန့်ပွားရေးအတွက် ၂၀% သုံးစွဲမည် ဖြစ်ပါသည်။

(ဂ) **မီးဘေးကြိုတင် ကာကွယ်မှု** အနေဖြင့် Fire Alarm များ ဖြစ်သော Smoke Detector နှင့် Heat Detector များကို တပ်ဆင်ခြင်း၊ Manual Call Point, Alarm Bell နှင့် Fire Command Center များ ထည့်သွင်း တည်ဆောက်ပြီး Fire Hosereel များကို တစ်ထပ်လျှင် (၁) လုံးစီဖြင့် ရေပက် ဖြန်းနိုင်ရန် ဆောင်ရွက် ခြင်း၊ ရေဂါလံ (၃၀၀၀)ဆန့် မြေအောက် ရေကန်(၂)လုံး ဆောက်လုပ်ပြီး မော်တာ၊ ရေစုပ်စက်၊ မီးသတ်ပိုက်နှင့် ပိုက်ခေါင်းများထားရှိခြင်း၊ ဟိုတယ်အတွင်း

မီးသတ်ဆေးဘူးများ အဆင်သင့်ထားရှိခြင်း၊ မြို့နယ်မီးသတ်တပ်ဖွဲ့များမှ အခါအားလျော်စွာ ပို့ချသည့် မီးသတ်သင်တန်းများသို့ ဟိုတယ်ဝန်ထမ်းများအား တက်ရောက်စေပြီး မီးကာကွယ်ငြိမ်းသတ်ရေး အဖွဲ့များ ဖွဲ့စည်းထားရှိခြင်းတို့ကို ဆောင်ရွက်သွားမည် ဖြစ်ကြောင်း တင်ပြထား ပါသည်။

(ဃ) **ပတ်ဝန်းကျင် ညစ်ညမ်းမှု** မရှိစေရေးအတွက် သဘာဝပတ်ဝန်းကျင်နှင့် လူမှုပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး အစီအစဉ်များရေးဆွဲပြီး လိုက်နာဆောင်ရွက်သွားမည် ဖြစ်ကြောင်း ဝန်ခံကတိပြု တင်ပြထားပါသည်။

(င) **လုပ်ငန်းခွင်သက်သာချောင်ချိရေးအနေဖြင့်** ကြို/ပို့ယာဉ်များနှင့် ဝန်ထမ်းအိမ်ယာများ စီစဉ်ပေးခြင်း၊ အချိန်ပိုကြေးပေးခြင်း၊ ခွင့်ရက်မပျက် ဝန်ထမ်းများအား အပိုဆု ကြေးပေးခြင်း၊ နှစ်စဉ်ပျော်ပွဲရွှင်ပွဲများ ပြုလုပ်ပေးခြင်း၊ ကျန်းမာရေးစောင့်ရှောက်မှု အတွက် ဆေးသေတ္တာ များထားရှိခြင်း၊ နာမကျန်းသူနားနေခန်း ထားရှိခြင်း၊ လူမှုဖူလုံရေး ဝင်ရောက်စေခြင်း၊ အခါအားလျော်စွာ ကျန်းမာရေး ပညာပေးသင်တန်းများသို့ (၃)လ တစ်ကြိမ် စေလွှတ်သင်ကြားပေးခြင်း၊ နှစ်ရှည်ဝန်ထမ်းများအတွက် ဆေးကုသစရိတ် ထောက်ပံ့ပေးခြင်းတို့ကို ဆောင်ရွက်ပေးမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

(စ) ပတ်ဝန်းကျင်တည်နေရာပြမြေပုံ နှင့် ဆောက်လုပ်ဆဲ အဆောက်အဦပုံစံ(မိတ္တူ) တင်ပြထားပါသည်။ အဆောက်အဦဆောက်လုပ်ခွင့်စာမိတ္တူတင်ပြထားပါသည်။

(ဆ) ဟိုတယ်သုံး လျှပ်စစ် အသုံးအဆောင်များနှင့်ဟိုတယ်ခန်းသုံး ပစ္စည်းများအား ပြည်ပမှ ဝယ်ယူ အသုံးပြုမည် ဖြစ်ပါသည်။

(ဇ) မန္တလေးတိုင်းဒေသကြီး အတွင်း ဟိုတယ်လုပ်ငန်းနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု (၅) ခုနှင့် မြန်မာနိုင်ငံသား ရင်းနှီး မြှုပ်နှံမှု(၃၀) ခုတို့ကို ခွင့်ပြုမိန့်ထုတ်ပေးထားပြီး မန္တလေးတိုင်းဒေသကြီး ရင်းနှီးမြှုပ်နှံမှု ကော်မတီမှ ထုတ်ပေးထားသည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု (၂)ခုနှင့် နိုင်ငံသားရင်းနှီးမြှုပ်နှံမှု (၃) ခုတို့ ပါဝင် ပါသည်။

(ဈ) အဆိုပြုလုပ်ငန်းသည် ရင်းနှီးမြှုပ်နှံမှု ဦးစားပေးမြှင့်တင်မည့် ကဏ္ဍတွင် ပါဝင်ပြီး ဖွံ့ဖြိုးမှုအသင့်အတင့်ရှိသောဒေသ ဇုန် (၃) တွင် ပါဝင်သဖြင့် ဝင်ငွေခွန်ကင်း လွတ်ခွင့် ၃ နှစ် ခံစားခွင့် လျှောက်ထားနိုင်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၆။ ရာခိုင်နှုန်းပြည့် နိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် Seinn Ou Yin Co., Ltd. (စိမ်းဥယျာဉ် ကုမ္ပဏီ လီမိတက်) မှ ကြယ်သုံးပွင့်အဆင့်ရှိ နိုင်ငံတကာ အဆင့်မီဟိုတယ်ဝန်ဆောင်မှု လုပ်ငန်း

အား ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေ နှင့်အညီ ဆောင်ရွက်ခွင့် တင်ပြလာခြင်း နှင့်စပ်လျဉ်း၍ အတည်ပြုမိန့် ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(နွယ်နီဦး၊အတွင်းရေးမှူး)